ကုမ္ပဏီအမည် - Myanmar Aquariums Company Limited

လုပ်ငန်း - **နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာ တည်ဆောက်ခြင်းနှင့် ပြသခြင်း ဝန်ဆောင်မှုလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုလွှာတင်ပြခြင်း | ၁၁-၃-၂၀၁၆ | | ယခင် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက် ဒေသ ဖွံ့ဖြိုးရေးဝန်ကြီး ဌာနမှတစ်ဆင့် တင်ပြသည်။ |
| ၂။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး (၁၁/၂၀၁၆) သို့ တင်ပြခြင်း။ | ၁၄-၃-၂၀၁၆ | | |
| ၃။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၅-၃-၂၀၁၆ | ၂၅-၃-၂၀၁၆ | |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၆-၃-၂၀၁၆ | ၂၄-၃-၂၀၁၆ | |
| | (ဂ) ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ | ၁၅-၃-၂၀၁၆ | ၂၂-၃-၂၀၁၆ | |
| | (ဃ) ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ(ထပ်မံတောင်း) | ၃၀-၆-၂၀၁၆ | ၂၀-၇-၂၀၁၆ | |
| ၄။ | **မြေအသုံးပြုခွင့်တင်ပြခြင်း** | | | ကုမ္ပဏီသည် တိုင်းဒေသကြီး ငါးလုပ်ငန်းဦးစီးဌာနမှ တင်ဒါ ရရှိထားပါသည်။ |
| ၅။ | သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားစာပေးပို့ခြင်း | ၂၈-၃-၂၀၁၆ | ၂-၅-၂၀၁၆ | |
| ၆။ | ကုမ္ပဏီမှလိုအပ်ချက်ပြင်ဆင်တင်ပြခြင်း | ၂၂-၇-၂၀၁၆ | | |
| ၇။ | ကုမ္ပဏီမှ အဆိုပြုလွှာပေးပို့ခြင်း | ၂၂-၇-၂၀၁၆ | | |
| ၈။ | **စုစုပေါင်း ကြာမြင့်ရက်(၁၃၄)ရက်** | | | |

အကြောင်းအရာ။ **မြန်မာအကွာရီယမ်(မ်စ်)ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited)မှ နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာ တည်ဆောက်ခြင်း နှင့် ပြသခြင်း ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ လုပ်ငန်းအဆိုပြုသူအမည် | - **မြန်မာအကွာရီယမ်(မ်စ်)<br>(Myanmar Aquariums Company Limited)**<br>- **ဦးတင်မောင်ထွန်း (အဘ-ဦးထွန်းမြင့်)** |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာတည်ဆောက်ခြင်း နှင့် ပြသခြင်း ဝန်ဆောင်မှု လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ဗိုလ်ချို(၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီး ရေချိုငါးဥယျာဉ် |
| | မြေအကျယ်အဝန်း | - ဧရိယာ ၅.၀၀ ဧက၊ (၂၄,၂၈၁.၁၆ စတုရန်းမီတာ) |
| ၃။ | မြေပိုင်ရှင် | - ရန်ကုန်တိုင်းဒေသကြီး၊ ငါးလုပ်ငန်း ဦးစီးဌာန |
| | နှစ်စဉ်မြေငှားရမ်းခ | - ၂၀၁၃-၂၀၁၄ခုနှစ် နှင့် ၂၀၁၄-၂၀၁၅ ခုနှစ် တစ်နှစ်လျှင် ကျပ်သိန်း (၁,၂၀၀)နှုန်း<br>- ၂၀၁၅-၂၀၁၆ခုနှစ် နှင့် ၂၀၁၇-၂၀၁၈ ခုနှစ် တစ်နှစ်လျှင် ကျပ်သိန်း (၁,၂၆၀)နှုန်း<br>- ၂၀၁၈-၂၀၁၉ခုနှစ် မှကျန်နှစ်များအတွက် ၅ နှစ်လျှင် တစ်ကြိမ် နှစ်ဦးနှစ်ဘက် ညှိနှိုင်းသတ်မှတ်မည်။ |
| ၄။ | မြေငှား သက်တမ်း | - ၉-၁၀-၂၀၁၃ မှ စတင်၍ ကနဦးသက်တမ်း ၂၀ နှစ် နှင့် ၁၀နှစ် ၂ ကြိမ် သက်တမ်းတိုး |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | **မတည်ငွေရင်းပမာဏ** | - **ကျပ် ၄၂,၀၂၁.၇၃ သန်း (US$ ၃၃.၅၈ သန်း အပါအဝင်)** |
| | ငွေပမာဏ | - ကျပ် ၅၀.၀၀ သန်း |
| | စက်ပစ္စည်းကိရိယာများ (ပြည်ပဝယ်) | - ကျပ် ၉,၃၇၅.၀၀ သန်း (US$ ၇.၅၀ သန်း အပါအဝင်) |
| | လျှပ်စစ်ပစ္စည်းကိရိယာ (ပြည်ပဝယ်) | - ကျပ် ၁၀,၀၀၀.၀၀ သန်း (US$ ၈.၀၀ သန်းအပါအဝင်) |
| | အဆောက်အဦ တန်ဖိုး | - ကျပ် ၂၁,၉၇၁.၇၃ သန်း (US$ ၁၇.၅၈ သန်းအပါအဝင်) |
| | ပရိဘောဂများ၏ တန်ဖိုး (ပြည်ပဝယ်) | - ကျပ် ၆၂၅.၀၀ သန်း (US$ ၀.၅၀ သန်း အပါအဝင်) |
| ၆။ | ဝန်ထမ်းအင်အား | - **၈၀ ဦး** |
| | ပြည်တွင်း | - ၇၆ ဦး အနိမ့်ဆုံးဝန်ထမ်းလစာမှာ ကျပ် ၁၅၀,၀၀၀<br>အမြင့်ဆုံးဝန်ထမ်းလစာမှာ ကျပ် ၁,၀၀၀,၀၀၀ |
| | ပြည်ပ | - ၄ ဦး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၅,၀၀၀ |

| | | |
|---|---|---|
| ၇။ | ဝန်ဆောင်မှုပေးမည့် နည်းစနစ် | - နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာ တည်ဆောက်၍ ပြည်သူများ အပန်းဖြေရန်အတွက် အခကြေးငွေယူသော ဝန်ဆောင်မှုလုပ်ငန်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် )<br>ကုမ္ပဏီ၏ အသုံးစရိတ်<br>ကုမ္ပဏီ၏ အသားတင်အမြတ် | - ကျပ် ၇,၃၀၈.၃၆ သန်း<br>- ကျပ် ၅,၂၄၀.၄၇ သန်း<br>- ကျပ် ၂,၀၆၇.၈၉ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br>- ကျပ် ၁,၀၅၅.၀၅ သန်း<br>- ကျပ် ၂၂၃.၆၇ သန်း<br>- ၈ နှစ်၊ ၇ လ<br>- ၁၅.၃၈ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၁,၄၆၀ kVA |
| ၁၁။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့် တောင်းခံခြင်း<br>စက်ပစ္စည်းကိရိယာများ<br><br>လျှပ်စစ်ပစ္စည်းကိရိယာ<br><br>ပရိဘောဂများ၏ တန်ဖိုး | <br>- US$ ၇.၅၀ သန်း တန်ဘိုးရှိ စာရင်းကို ပူးတွဲ- ၁ ဖြင့် တင်ပြထားပါ သည်။<br>- US$ ၈.၀၀ သန်း တန်ဘိုးရှိ စာရင်းကို ပူးတွဲ- ၂ ဖြင့် တင်ပြထားပါသည်။<br>- US$ ၀.၅၀ သန်း တန်ဘိုးရှိ စာရင်းကို ပူးတွဲ- ၃ ဖြင့် တင်ပြထားပါ သည်။ |
| ၁၂။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ လုပ်ငန်းများအတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည်ဟု တင်ပြထား ပါသည်။ |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | - မီးဘေးအန္တရာယ် အတွက် လိုအပ်သော လုပ်ငန်းခွင်အတွင်း ရေဂါလံ (၂,၀၀၀) ဆန့် မြေအောက် ကွန်ကရစ် ရေကန် (Under ground Concerte Tank) (၂)လုံး ဆောက်လုပ်မည်ဖြစ်ကြောင်း၊ ကန်အနီးတွင် အဆင်သင့်အသုံးပြုနိုင်ရန် ၁၀ HPရှိမော်တာနှင့် ရေစုပ်စက်အပါအဝင် မီးသတ်ပိုက်နှင့် ပိုက်ခေါင်း (၂)စုံစီကိုထားရှိမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပူးတွဲ- ၁

Exhibit (2)

Myanmar Aquariums Company Limited

| List of Appliances and Equipments (TO BE IMPORTED) | | | | | | |
|---|---|---|---|---|---|---|
| Sr. | Particular | Unit | Qty | Price in (USD) | Value in (USD) | Remark |
| 1 | **Machinery & Equipment** | | | | | |
| | (a) Main Aquarium Site Major Filteration Equipment | Lot | 1 | 1,403,584 | 1,403,584 | |
| | (b) Off Site Quarintine Major Filteration Equipment | Lot | 1 | 757,363 | 757,363 | |
| | (c ) Operation Capex Item | Lot | 1 | 284,518 | 284,518 | |
| 2 | **Aquarium Structure & Lives Stock** | | | | | |
| | (a) Acrylic Panel and Water seal and bond accessories | Lot | 1 | 3,905,138 | 3,905,138 | |
| | (b) Imported Marine List Salt water Species | Lot | 1 | 460,869 | 460,869 | |
| | (c ) Artificial Enviroment Scenery Pieces | Lot | 1 | 393,016 | 393,016 | |
| | (d ) Exibit Lighting Equipment | Lot | 1 | 295,512 | 295,512 | |
| | **GRAND TOTAL** | | | | **7,500,000** | |

Exhibit - ( 2-A ) ပူးတွဲ- ၂

**MYANMAR AQUARIUMS COMPANY LIMITED .**

**List of Electrical Equipment ( TO BE IMPORTED )**

| Sr.No | Description of Items | Unit | Qty | Equipment Price (US$) |
|---|---|---|---|---|
| | **BILL NO.1 - Block A Collection** | | | |
| 1.1 | Distribution Boards & Panel Boards | Lot | 1 | 32,400 |
| 1.2 | Low voltage Cable & Raceways | Lot | 1 | 295,000 |
| 1.3 | ELV system | Lot | 1 | |
| | 1.3.1 PA SYSTEM | Lot | 1 | 24,500 |
| | 1.3.2 Fire protection system | Lot | 1 | 36,000 |
| | 1.3.3 CCTV system | Lot | 1 | 29,000 |
| 1.4 | Lighting system | Lot | 1 | 27,500 |
| 1.5 | Switches and outlets | Lot | 1 | 12,150 |
| 1.6 | Emergency light system | Lot | 1 | 15,400 |
| 1.7 | Lightning Protection System | Lot | 1 | 34,900 |
| 1.8 | Lift system | Lot | 1 | 220,000 |
| 1.9 | Plumbing and sanitary system | Lot | 1 | 312,000 |
| 1.10 | `External lighting system | Lot | 1 | 97,600 |
| 1.11 | Fire fighting system | Lot | 1 | 55,000 |
| 1.12 | ACMV & Ventilation system | Lot | 1 | 718,000 |
| | | | | |
| | **BILL NO.2 BLOCK B Collection** | | | |
| 2.1 | Distribution Boards & Panel Boards | Lot | 1 | 45,700 |
| 2.2 | Low voltage Cable & Raceways | Lot | 1 | 225,000 |
| 2.3 | ELV system | | | |
| | 2.3.1 PA SYSTEM | Lot | 1 | 87,500 |
| | 2.3.2 Fire protection system | Lot | 1 | 110,000 |
| | 2.3.3 CCTV system | Lot | 1 | 73,400 |
| 2.4 | Lighting System | Lot | 1 | 197,220 |
| 2.5 | Switches and outlets | Lot | 1 | 19,600 |
| 2.6 | Emergency light system | Lot | 1 | 27,000 |
| 2.7 | Lightning Protection System | Lot | 1 | 44,700 |
| 2.8 | Lift system | Lot | 1 | 250,000 |
| 2.9 | Plumbing and sanitary system | Lot | 1 | 43,300 |
| 2.10 | External lighting system | Lot | 1 | 693,490 |
| 2.11 | Fire fighting system | Lot | 1 | 101,500 |
| 2.12 | ACMV& Ventilation system | Lot | 1 | 1,328,000 |
| | | | | |

| Sr.No | Description of Items | Unit | Qty | Equipment Price (US$) |
|---|---|---|---|---|
| | **BILL NO. 3 BLOCK - C Collection** | | | |
| 3.1 | Distribution Boards & Panel Boards | Lot | 1 | 5,500 |
| 3.2 | Low voltage Cable & Raceways | Lot | 1 | 52,000 |
| 3.3 | Lighting system | Lot | 1 | 7,200 |
| 3.4 | ELV system | Lot | 1 | 3,640 |
| 3.5 | Switches and outlets | Lot | 1 | 5,850 |
| | | | | |
| | **Bill No.4 INFRA STRUCTURE Collection** | | | |
| 4.1 | Medium votlage switch gears & Transformer | Lot | 1 | 650,000 |
| 4.2 | Generator System | Lot | 1 | 495,000 |
| 4.3 | Main Distribution Board | Lot | 1 | 420,000 |
| 4.4 | Cu Busduct | Lot | 1 | 36,000 |
| 4.5 | Low voltage Cable & Raceways | Lot | 1 | 135,500 |
| 4.6 | Landscape lighting system | Lot | 1 | 297,000 |
| 4.7 | Plumbing and sanitary system | Lot | 1 | 387,450 |
| 4.8 | Fire fighting system | Lot | 1 | 245,000 |
| 4.9 | Waste water treatmet system | Lot | 1 | 104,000 |
| 4.10 | ELV system | | | |
| | 4.10.1 TELEPHONE SYSTEM | Lot | 1 | 97,500 |
| | 4.10.2 MATV System | Lot | 1 | 36,500 |
| | **Total (USD)** | | | **8,000,000** |

ပူးတွဲ- ၄

Exhibit ( 4 )

## MYANMAR AQUARIUMS COMPANY LIMITED .

### Furniture & Fixtures Requirement ( TO BE IMPORTED )

| Sr. No. | Particulars | A/U | Qty | IMPORT | |
|---|---|---|---|---|---|
| | | | | Price ( US $ ) | Value in ( US$ ) |
| | | | | | |
| 1 | Office Equipment & Furniture | Lot | 1.00 | 500,000 | 500,000 |
| | | | | | |
| | | | | | |
| | | | | | |
| | **TOTAL** | | | | **500,000** |

ကုမ္ပဏီအမည် - **မြန်မာအကွာရီယမ်(မ်စ်)ကုမ္ပဏီလီမိတက်**

**(Myanmar Aquariums Company Limited)**

အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာ တည်ဆောက်ခြင်း နှင့် ပြသခြင်း ဝန်ဆောင်မှု လုပ်ငန်း

တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ဗိုလ်ချို(၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီး ရေချိုငါးဥယျာဉ် ဧရိယာ ၅.၀၀ ဧက၊ (၂၄,၂၈၁.၁၆ စတုရန်းမီတာ)

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - **ကျပ် ၄၂,၀၂၁.၇၃ သန်း (US$ ၃၃.၅၈ သန်း အပါအဝင်)**

ရင်းနှီးမြှုပ်နှံမှု သက်တမ်း - ၂၀ နှစ်

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| **စဉ်** | **အကြောင်းအရာ** | **Cost (ကျပ်သန်း)** | **Benefit (ကျပ်သန်း)** |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၂၀ |
| ၃ | သွန်းကုန်အခွန်ကင်းလွတ်ခွင့် | ၁,၀၀၀.၀၀ | |
| ၄ | ဝင်ငွေခွန် | ၂,၇၃၉.၈၅ | ၆,၀၅၀.၉၄ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၁,၂၅၂.၅၄ |
| ၆ | လောင်စာဆီ | | ၇၆၉.၃၃ |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | ၁၂၅.၄၅ |
| ၈ | မြေငှားရမ်းခရငွေ | | ၆၀.၀၀ |
| ၉ | CSR (၂%) | | ၃၀၈.၇၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၇၆ ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၃,၇၄၂.၈၅ | ၈,၅၆၈.၁၆ |
| | | ၁ : ၃ | |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(အ)/မ-၀၁၄/၂၀၁၆(၄၀၀)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇူလိုင်လ ၂၆ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ **မြန်မာအကွာရီယမ်(မ်စ်)ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited)မှ နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာ တည်ဆောက်ခြင်း နှင့် ပြသခြင်း ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေးဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာအကွာရီယမ်(မ်စ်) ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်း မြို့နယ်၊ ဗိုလ်ချို(၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီးရေချိုငါး ဥယျာဉ်၏ ဧရိယာ ၅.၀၀ဧက (၂၄,၂၈၁.၁၆ စတုရန်းမီတာ) ပေါ်တွင် နိုင်ငံတကာ အဆင့်မီ ရေအောက်ငါးကမ္ဘာ တည်ဆောက်ခြင်းနှင့် ပြသခြင်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ယခင် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကန်တော်ကြီး ရေချိုငါးဥယျာဉ် ငှားရမ်း လုပ်ကိုင်ခွင့် အိတ်ဖွင့်တင်ဒါအား ကြမ်းခင်းဈေး ကျပ်(၄၀၈.၈၅) သိန်းဖြင့် ၂၀၁၃ခုနှစ် စက်တင်ဘာလ ၁၆ ရက်နေ့တွင် ရောင်းချခဲ့ရာ ကျပ်သိန်း (၁,၂၀၀)ဖြင့် ဒေါ်ယုယုဝင်းမှ ဈေးအများဆုံးပေး၍ တင်ဒါ အောင်မြင်ခဲ့ပါသည်။ ၂၀၁၃ ခုနှစ် စက်တင်ဘာလ ၂၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန် တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၃၉/၂၀၁၃)မှကုမ္ပဏီသို့ တင်ဒါစည်းကမ်းချက်နှင့် အညီစာချုပ်ချုပ်ဆိုခွင့်ပြုကြောင်း အကြောင်းကြားစာနှင့် ကန်တော်ကြီး ရေချိုငါးဥယျာဉ်ကို ခေတ်မီငါးပြတိုက်အဖြစ် ပြောင်းလဲလုပ်ကိုင်ရန် ၂၀၁၃ ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့တွင် ချုပ်ဆိုခဲ့သော လုပ်ငန်းငှားရမ်းခြင်းစာချုပ်အပေါ် သက်တမ်းပြောင်းလဲ သတ်မှတ်နိုင်ရေးအတွက် ရန်ကုန်တိုင်းဒေသကြီး ဥပဒေချုပ်ရုံးမှ ဥပဒေအကြံပြုချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသော ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်တို့ကို ပူးတွဲ တင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ရန်ကုန်တိုင်းဒေသကြီး၊ ငါးလုပ်ငန်းဦးစီးဌာနနှင့် မြန်မာအကွာရီယမ်(မ်စ်) ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited) ဒေါ်ယုယုဝင်းတို့ချုပ်ဆို ထားသည့် ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်နှင့် လုပ်ငန်းတည်နေရာပြမြေပုံနှင့် ကုမ္ပဏီ၏ မှတ်ပုံတင်လက်မှတ်၊ ပုံစံ (၆/၂၆)၊ UMFCCI လက်မှတ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့

စည်းမျဉ်း ပြည်ပမှ တင်သွင်းမည့်ရေချို /ရေငန် ငါးအမျိုးအစား ၁၉၃ မျိုးစာရင်းတို့ကို တို့ကို ပူးတွဲ တင်ပြ ထားပါသည်။

၄။ မြေအငှားစာချုပ်၏ သက်တမ်းသည် ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၉ ရက်နေ့ ကနဦး (၂၀) နှစ် နှင့် (၁၀) နှစ် (၂) ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည် ဖြစ်ပြီး၊ တည်ဆောက်ရေး ကာလမှာ (၁)နှစ်ခန့် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ ကျပ် ၄၂,၀၂၀.၇၃ သန်း ဖြစ်ပြီး၊ ပြည်ပမှ US$ ၁၆.၀၀ သန်း တန်ဘိုးရှိ စက်ပစ္စည်း၊ လျှပ်စစ်ပစ္စည်းနှင့် ပရိဘောဂများ တင်သွင်းမည် ဖြစ်ပါ သည်။ ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

ကျပ်(သန်း)

| | | |
|---|---|---|
| (က) | ငွေပမာဏ | ၅၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ (ပြည်ပဝယ်) | ၉,၃၇၅.၀၀ (US$ ၇.၅၀ သန်း အပါအဝင်) |
| (ဂ) | လျှပ်စစ်ပစ္စည်းကိရိယာ (ပြည်ပဝယ်) | ၁၀,၀၀၀.၀၀ (US$ ၈.၀၀ သန်းအပါအဝင်) |
| (ဃ) | အဆောက်အဦ | ၂၁,၉၇၁.၇၃ (US$ ၁၇.၅၈ သန်းအပါအဝင်) |
| (င) | ပရိဘောဂများ (ပြည်ပဝယ်) | ၆၂၅.၀၀ (US$ ၀.၅၀ သန်း အပါအဝင်) |
| | **စုစုပေါင်း** | **၄၂,၀၂၀.၇၃ (US$ ၃၃.၅၈ သန်း အပါအဝင်)** |

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း ၇၆ ဦးနှင့် ပြည်ပဝန်ထမ်း ၄ ဦး၊ စုစုပေါင်း ၈၀ ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပြီး၊ ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်၍ အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ နိုင်ငံခြားသား ပညာရှင် ၄ ဦး အား တစ်ဦးလျှင် US$ ၅,၀၀၀ ဖြင့် ခန့်ထားမည် ဖြစ်ပါသည်။

၇။ ကုမ္ပဏီမှ နိုင်ငံသား၄၈၀ ဦး အား တစ်ဦးလျှင် ကျပ် ၅,၀၀၀ နှုန်း ဖြင့်လည်းကောင်း၊ နိုင်ငံခြားသား ဧည့်သည် ၁၂၀ ဦးအား တစ်ဦးလျှင် US$ ၃၀ နှုန်း ဖြင့် နေစဉ်ဝန်ဆောင်မှု ပေးနိုင်မည် ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့် ဧရိယာ ၅.၀၀ ဧက (၂၄,၂၈၁.၁၆ စတုရန်းမီတာ) အနက် ၇,၈၄၈ စတုရန်းမီတာအား တစ်နှစ် စတုရန်းမီတာလျှင် ကျပ် ၆၀၀,၀၀၀ခန့် ဖြင့် ငှားရမ်း နိုင်မည် ဖြစ်ပါသည်။

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

ကျပ်(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၇,၃၀၈.၃၆ |
| (ခ) | အသုံးစရိတ် | ၅,၂၄၀.၄၇ |
| (ဂ) | အသားတင်အမြတ် | ၂,၀၆၇.၈၉ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် ၆ နှစ် မြောက်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁,၀၅၅.၀၅ သန်းနှင့် ကုန်သွယ် လုပ်ငန်းခွန် ကျပ် ၂၂၃.၆၇ သန်း ရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၈ နှစ် ၇ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၅.၃၈ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ ရန်ကုန်တိုင်းဒေသကြီး ငါးလုပ်ငန်းဦးစီးဌာနနှင့် မြန်မာအကွာရီယမ်(မ်စ်) ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited) ဒေါ်ယုယုဝင်း တို့ချုပ်ဆိုထားသည့် ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ် ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) အငှားစာချုပ်၏ သက်တမ်းသည် ၉-၁၀-၂၀၁၃ရက်နေ့မှ ကနဦးသက်တမ်း ၂၀ နှစ် နှင့် နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် ၁၀ နှစ်၊ ၂ ကြိမ်အထိ သက်တမ်းတိုးမြှင့် နိုင်သည်။ သက်တမ်းတိုးဆောင်ရွက်လိုပါက စာချုပ်သက်တမ်းမကုန်ဆုံးမီ (၆)လ ကြိုတင် အကြောင်းကြားရမည်။ **ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်(အပိုဒ် - ၁၊ အပိုဒ်ခွဲ -၃(ခ))**

(ခ) ငှားရမ်းခနှုန်းထားများကို (၅)နှစ်လျှင် တစ်ကြိမ် နှစ်ဦးနှစ်ဖက်ညှိနှိုင်း သတ်မှတ်ရမည်။ ထိုသို့ ညှိနှိုင်းသတ်မှတ်ရာတွင် ပြီးခဲ့သော (၅)နှစ်ကာလအတွက် နှစ်စဉ်ငှားရမ်းခ နှုန်းထား၏ ၂၀ % ထက်မပိုစေရန် သဘောတူကြပါသည်။ **ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်(အပိုဒ် - ၂၊ အပိုဒ်ခွဲ -၄(က))**

(ဂ) အငှားချထားခြင်းခံရသူ(ကုမ္ပဏီ)သည် ငှားရမ်းခကို အောက်ဖော်ပြပါနှုန်း အတိုင်း ပေးချေရမည် -

(၁) ၂၀၁၃-၂၀၁၄ ခုနှစ်နှင့် ၂၀၁၄ - ၂၀၁၅ ခုနှစ်များအတွက် တစ်နှစ်လျှင် ကျပ်သိန်း(၁,၂၀၀)နှုန်း (ကျပ်သိန်း တစ်ထောင့် နှစ်ရာတိတိ)ကို ငှားရမ်းခ အဖြစ် နှစ်စဉ်ပေးချေရမည်။

(၂) ၂၀၁၅ -၂၀၁၆ ခုနှစ် နှင့်၂၀၁၇ - ၂၀၁၈ ခုနှစ်များအတွက် တစ်နှစ်လျှင် ကျပ်သိန်း (၁,၂၆၀)နှုန်း (ကျပ်သိန်း တစ်ထောင့် နှစ်ရာ ခြောက်ဆယ် တိတိ) ကို ငှားရမ်းခအဖြစ် နှစ်စဉ်ပေးချေရမည်။

(၃) ၂၀၁၈ -၂၀၁၉ ခုနှစ် မှ ကျန်သောနှစ်များအတွက်(၅)နှစ်လျှင်တစ်ကြိမ်နှစ်ဦး နှစ်ဖက် ညှိနှိုင်း သတ်မှတ်သည့် နှစ်အလိုက် ငှားရမ်းခနှုန်းထားများ အတိုင်း နှစ်စဉ်ပေးချေရမည်။ **ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်(အပိုဒ် - ၂၊ အပိုဒ်ခွဲ -၄(ခ))**

(ဃ) စာချုပ်ပါ စည်းကမ်းဖောက်ဖျက်၍ လည်းကောင်း၊ စာချုပ်ပျက်ပြယ် ရပ်စဲလျှင် သော်လည်းကောင်း၊ စာချုပ်သက်တမ်းပြည့်၍ ငှားရမ်းခွင့် ကုန်ဆုံးလျှင် သော် လည်းကောင်း၊ ငါးလုပ်ငန်း ဦးစီးဌာနမှ လွှဲပြောင်းပေးအပ်ထားသော ပစ္စည်းများ၊ အဆောက်အဦများ (သို့မဟုတ်) ပြင်ဆင် ဆောက်လုပ် ထားသော အဆောက်အဦ

များ အပါအဝင် တိုးချဲ့ခြင်း၊ လျော့ချခြင်းပြုလုပ်ထားသော သစ်ပင်များ၊ ငါးမျိုးစိတ်များကို ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။ ၎င်းအပြင် အငှားချထားခြင်းခံရသူမှ တိုးချဲ့ဆောက်လုပ်ထားသော အဆောက်အဦများ၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကို အငှားချထားခြင်းခံရသူမှ အငှားချထားသူထံသို့ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။ **ပထမအကြိမ်ပြင်ဆင်ချက် သဘောတူ စာချုပ် (အပိုဒ် - ၃၊ အပိုဒ်ခွဲ -၅(က))**

(င) စာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်း စာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။ **ပထမအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်(အပိုဒ်- ၉)**

(စ) ဤပြင်ဆင်ချက်စာချုပ်သည် စာချုပ်လက်မှတ်ရေးထိုးသည့် (၇-၁၂-၂၀၁၅) ရက်နေ့မှ စတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။ **ပထမအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ် (အပိုဒ် - ၆၊ အပိုဒ်ခွဲ -၉(ခ))**

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သက်ဆိုင်၍ဌာန အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၃၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ဗဟန်းမြို့နယ်၊ဗိုလ်ချုပ်(၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီးရေချို ငါးဥယျာဉ်၏ခန့်မှန်းဧရိယာ (၅.၀၀) ဧက (20234.3 sqm )အား တစ်နှစ်လျှင် ကျပ်သိန်း (၁,၂၆၀) ခန့်၊ (1sqm=6227 kyats)နှုန်းဖြင့် (၂၀+၁၀+၁၀) နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း နှင့် ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၂)အရ မြန်မာအကွာရီယမ်(မ်စ်) ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited)၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်းထောက်ခံတင်ပြထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်

နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာ တွင်ဖော်ပြထားသည့် လူမှုရေး အကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility -CSR)အတွက် အသားတင် အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင် ဖော်ပြထားသည့်အတိုင်း ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination-IEE) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်၊ အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီ အစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ် စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီ အစဉ် (Environmental Management Plan-EMP)အား ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များ၊ မြို့တော်စည်ပင်သာယာရေး ကော်မတီ၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရန်၊ သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများရယူ ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။**(သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများကို ထည့်သွင်းစီစဉ်ထားရှိမည် ဖြစ်ပါကြောင်း၊ လုပ်ငန်းခွင်အတွင်းမှ ထွက်ရှိလာမည့် စွန့်ပစ် ရေဆိုးများကို Waste Water Treatment Plan ဖြင့် စွန့်ပစ်ရန်နှင့် လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။)** **(နောက်ဆက်တွဲ - ခ)**

(ဂ) **ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ မှ** နိုင်ငံတကာ အဆင့်မီ ရေအောက် ငါးကမ္ဘာတည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် (၄၅၉'-၃" x ၉၃'-၇") အတိုင်းအတာရှိ (၂)ထပ် + Open Shed Curve အဆောက်အဦအား (Restaurant & Office) အသုံးပြုရန်နှင့် (၄၀၀'-၄" x ၁၁၆'-၅") အတိုင်းအတာရှိ (၃)ထပ် Steel Curve ပုံစံ အဆောက်အဦအား ငါးဥယျာဉ်ပြတိုက် အသုံးပြုရန်အတွက် ဆောက်လုပ်ခွင့် လျှောက်ထားလာခြင်းအား ကန်တော်ကြီးရေပြင်နှင့် ဆောက်လုပ်မည့်မြေကြား (၁၂'-၀") ကျယ်သော မူလကားပတ်လမ်းခြား၍ဆောက်လုပ်ရန် ရန်ကုန်မြို့တော် စည်ပင်သာယာကော်မတီ၏ ၅-၁၀-၂၀၁၄ ရက်နေ့တွင် ကျင်းပြုလုပ်သောကော်မတီဝင်များ အစည်း အဝေး မှတ်တမ်း (၃၉/၂၀၁၄)အရ ခွင့်ပြုထားပြီးဖြစ်ကြောင်း လုပ်ထုံး လုပ်နည်းနှင့်အညီ

စိစစ်ပြီးခွင့်ပြုထားပြီးဖြစ်ပါသဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားလာပါသည်။ **ထပ်မံ၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့** ရန်ကုန်တိုင်းဒေသကြီး၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် ကုမ္ပဏီတို့မှ အဆိုပါမြေနေရာတွင် နှစ်ရှည်မြေငှားရမ်း၍ စာချုပ်ချုပ်ဆိုပြီး ဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလာခြင်းနှင့် ပတ်သက်၍ **သဘောထားမှတ်ချက် တောင်းခံခဲ့ရာ** ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီအနေဖြင့် ကန့်ကွက် ရန်မရှိပါကြောင်း ထပ်မံ ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ - ဂ)**

၁၂။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် ကမ္ဘောဇဘဏ် (ကမာရွတ်ဘဏ်ခွဲ) ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၆ ရက်စွဲဖြင့် လက်ကျန် ငွေကျပ် ၄၉,၀၇၄,၆၂၃.၆၄ ရှိကြောင်း တင်ပြထားပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း၊ နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သောလုပ်ငန်းခွင်အတွင်း ရေဂါလံ(၂,၀၀၀)ဆန့် မြေအောက် ကွန်ကရစ်ရေကန် (Under ground Concerte Tank) (၂)လုံးဆောက်လုပ်မည် ဖြစ်ကြောင်း၊ ကန်အနီးတွင် အဆင်သင့်အသုံးပြုနိုင်ရန် ၁၀ HPရှိ မော်တာ နှင့် ရေစုပ်စက် အပါအဝင် မီးသတ်ပိုက် နှင့် ပိုက်ခေါင်း (၂)စုံစီကို ထားရှိမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင် ဘေးထွက်ပစ္စည်းနှင့် အခြားအမှိုက်များကို နေရာ သတ်မှတ်၍ ပုံထားပြီးမြို့နယ်စည်ပင်သာယာရေးကော်မတီရုံး၏ ညွှန်ကြားချက်အရ အမှိုက် စွန့်ပစ်ခြင်းကို ပြုလုပ်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် အကောင်အထည် ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် CSRအဖြစ် အသားတင်အမြတ်၏၂ ရာခိုင်နှုန်းကို ကျခံသုံးစွဲသွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအတွက် ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်တို့အား တင်ပြထားပါသည်။

၁၅။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၄ ရက်နေ့ တွင် ကျင်းပပြုလုပ် သော ၁၁/၂၀၁၆ အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့်( သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ (က) ယခင် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ လုပ်ငန်းဆောင်ရွက်ရန်တင်ပြရာတွင် နိုင်ငံတကာ အဆင့်မီရေအောက်ငါးကမ္ဘာ တည်ဆောက်ခြင်းနှင့် ဆက်စပ်လုပ်ငန်းများဖြစ်သော ဆိုင်ခန်းများငှားရမ်းခြင်း၊ အခကြေးငွေယူပြီး အများပြည်သူ ကြည့်ရှုလေ့လာ အပန်းဖြေနိုင်သည့် ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ကြောင်းတင်ပြပြီး **ကုမ္ပဏီမှ အဆိုပြုချက်တွင် လုပ်ငန်းအမျိုးအစား တင်ပြရာတွင် နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာ တည်ဆောက်ခြင်းနှင့်ပြသခြင်း ဝန်ဆောင်မှုလုပ်ငန်း** ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) မြန်မာအကွာရီယမ်(မ်စ်) (Myanmar Aquariums Company Limited)မှ ၂၀၁၃-၂၀၁၄ ဘဏ္ဍာရေးနှစ် အတွက် ကျပ်သိန်း (၁,၂၀၀)ကို လည်းကောင်း၊ ၂၀၁၄ -၂၀၁၅ ဘဏ္ဍာရေးနှစ် အတွက် ကျပ် သိန်း (၁,၂၀၀) ကို လည်းကောင်း၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့မှ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၈ ရက်နေ့အထိ တစ်နှစ် ကျပ်သိန်း (၁,၂၆၀) ကို လည်းကောင်း၊ ရန်ကုန်တိုင်းဒေသကြီး ငါးလုပ်ငန်းဦးစီးဌာနသို့ ပေးသွင်းထားပြီးဖြစ်ကြောင်း အထောက်အထားများတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ မြန်မာအကွာရီယမ်(မ်စ်)ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited) မှ နိုင်ငံတကာအဆင့်မီရေအောက် ငါးကမ္ဘာတည်ဆောက်ခြင်းနှင့်ပြသခြင်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)



(နောက်ဆက်တွဲ - က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၅ ရက်

MY-325
21.3.2016

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရကာ-၅ (အ)/ မ-၀၁၄/ ၂၀၁၆ (၁၇၄)

၁။ မြန်မာအကွာရီယမ်(မ်စ်)ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ဗိုလ်ချို(၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီးရေချိုငါးဥယျာဉ်၏ ခန့်မှန်းဧရိယာ(၅. ၀၀)ဧကပေါ်တွင် နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာတည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှတစ်ဆင့် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာခြင်းနှင့် စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် ဖနောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၃၀၀)ဦး လုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ဗိုလ်ချို (၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီးရေချိုငါးဥယျာဉ်၏ ခန့်မှန်းဧရိယာ (၅. ၀၀)ဧက (20234.3sqm)အား တစ်နှစ်လျှင် ကျပ်သိန်း (၁၂၆၀)ခန့် (1sqm=6227 kyat) နှုန်းဖြင့် (၂၀+၁၀+၁၀) နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2016/Cabinet/13./(9)

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၄ .၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၂)အရ မြန်မာအကွာရီယမ်(မ်စ်) ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited)၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဗဟန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မြန်မာအကွာရီယမ်(မ်စ်)ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited)
လက်ခံစာတွဲ
မျှောစာတွဲ

(နောက်ဆက်တွဲ - ခ)

Mq-ၔ၅၊
၂၄-၃-၁၆



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၁၀၃/၁၆ )
ရက် စွဲ ၊၂ဝ၁၆ခုနှစ် မတ် လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Aquariums Company Limited မှ နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာတည်ဆောက်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၃-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-ဝ၁၄/ ၂ဝ၁၆(၁၈ဝ)

၁။ Myanmar Aquariums Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ဗိုလ်ချို(၁)ရပ်ကွက်၊ နတ်မောင်းလမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီးရေချိုငါး ဥယျာဉ်၏ ခန့်မှန်းဧရိယာ ၅.ဝဝ ဧက ပေါ်တွင် နိုင်ငံတကာအဆင့်မီရေအောက်ငါးကမ္ဘာတည် ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြု ပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သတ်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၂ဝ)နှင့်သက် တမ်းတိုး(၁ဝ)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ မီး ဘေးကာကွယ်မှုအစီအမံများ၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်လုပ်ငန်းခွင်သာယာရေး အစီအစဉ်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသား တင်အမြတ်ငွေ၏(၂%)အားလူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility–CSR )လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက် ပျက်စီးမှု ရှိ/မရှိ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း( Initial Environmental Examination

–IEE)ကို တတိယအဖွဲ့အစည်းများနှင့်ဆက်သွယ်၍ ဆောင်ရွက်လျက်ရှိကြောင်း ဖော်ပြပါရှိပါသည်။

၃။ Myanmar Aquariums Company Limited မှ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် မြေသားပြုပြင်ဖော်ထုတ်ခြင်းမှထွက်ရှိလာမည့် မြေသားအမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊ တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သော အင်ဂျင်ဝိုင်၊ အမဲဆီနှင့်ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်လေထု၊ မြေထု၊ ရေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Aquariums Company Limited မှ နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာတည်ဆောက်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏ (၂%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင်ဖော်ပြထားသည့်အတိုင်း **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း**( Initial Environmental Examination – IEE ) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ မြို့တော်စည်ပင်သာယာရေးကော်မတီ၏ဥပဒေ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

M4-279
22.3.16




(နောက်ဆက်တွဲ - ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ရန်ကုန်မြို့

စာအမှတ်၊ ၁၀၉/၀၁ ( ၂၀၉၈ )/စသက
ရက်စွဲ ၊ ၂၀၁၆ခုနှစ် မတ် လ ၂၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၄/၂၀၁၆(၁၇၆)

၁။ မြန်မာအကွာရီယမ်(စ်)ကုမ္ပဏီလီမိတက် (Myanmar Aquariums Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ဗိုလ်ချို(၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီး ရေချိုငါးဥယျာဉ်၏ ခန့်မှန်းဧရိယာ (၅.၀၀)ဧကပေါ်တွင် နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာတည်ဆောက်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ တဆင့် အဆိုပြုလွှာတင်ပြလာခြင်းအား ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် အကြောင်းကြားလာခြင်းဖြစ်ပါသည်။

၂။ အဆိုပါနိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာတည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် (၄၅၉'-၃"× ၉၃'-၇") အတိုင်းအတာရှိ (၂)ထပ်+Open Shed Curve အဆောက်အဦအား (Restaurant & Office) အသုံးပြုရန်နှင့် (၄၀၀'-၄"× ၁၁၆'-၅")အတိုင်းအတာရှိ (၃)ထပ်Steel Curveပုံစံအဆောက်အဦအား ငါးဥယျာဉ်ပြတိုက်အသုံးပြုရန်အတွက် ဆောက်လုပ်ခွင့် လျှောက်ထားလာခြင်းအား ကန်တော်ကြီးရေပြင်နှင့်ဆောက်လုပ်မည့် မြေကြား (၁၂'-၀")ကျယ်သော မူလကားပတ်လမ်းခြား၍ ဆောက်လုပ်ရန် ရန်ကုန်မြို့တော်စည်ပင်သာယာကော်မတီ၏ ၅-၁၀-၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ကော်မတီဝင်များအစည်းအဝေးမှတ်တမ်း(၃၉/၂၀၁၄)အရ ခွင့်ပြုထားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ဗိုလ်ချို(၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီး ရေချိုငါးဥယျာဉ်တွင် နိုင်ငံတကာအဆင့်မီ ရေအောက်ငါးကမ္ဘာ တည်ဆောက်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ထုံးလုပ်နည်းနှင့်အညီ စိစစ်ပြီး ခွင့်ပြုထားပြီးဖြစ်ပါသဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း စိစစ်ပြန်ကြားအပ်ပါသည်။

(signature) ၂၂/၃/၂၀၁၆
ဥ က္က ဋ္ဌ (ကိုယ်စား)
(ဘဏ္ဍာလင်းစိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
မျှောစာတွဲ
ရုံးလက်ခံ

M4 - 771
21.7.16



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့

စာအမှတ်၊ ၁၀၉ / ၀၁ ( ၂၄၉၉ ) /စသက
ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ဇူလိုင် လ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၆-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/မ-၀၁၄/၂၀၁၆(၃၆၂)

မြန်မာအကွာရီယမ်(မစ်)ကုမ္ပဏီလီမိတက်(Myanmar Aquariums Company Limited)မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ဗိုလ်ချို(၁)ရပ်ကွက်၊ နတ်မောက်လမ်း၊ ဗိုလ်ချုပ်ပန်းခြံဝင်း၊ ကန်တော်ကြီးရေချိုငါးဥယျာဉ်၏ ခန့်မှန်းဧရိယာ (၅.၀၀)ဧကပေါ်တွင် နိုင်ငံတကာအဆင့်မီရေအောက်ငါးကမ္ဘာတည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တောင်းခံလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပေးပို့ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၁/၇/၂၀၁၆

ဥ က္က ဋ္ဌ ( ကိုယ်စား )
( ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
မျှောစာတွဲ
ရုံးလက်ခံ